ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၄၆/၂၀၁၆ ။ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဝင်းလွင်

(ခ) **အဘ အမည်** ဦးအောင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဗတထ(နိုင်) ၀၂၈၆၃၉

(ဃ) **နေရပ်လိပ်စာ** အမှတ်(၉၈)၊ မြေညီထပ်၊ လမ်း (၅၀)၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မြတ်မိဘကုမ္ပဏီလီမိတက် (MYAT MI BA COMPANY LIMITED)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** စက္ကူထုပ်ပိုးပစ္စည်းအမျိုးမျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ကွင်းအမှတ် ၆၅၉-A/ အလွမ်းဆွတ်ရွာမကွင်းနှင့် ၆၅၉-B /အလွမ်းဆွတ်တောင်ကွင်း၊ အလွမ်းဆွတ်ကျေးရွာအုပ်စု၊ သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံး ပစ္စည်းလုပ်ငန်း) ပိုင် စက္ကူ ထုပ်ပိုးစက်ရုံ (သန်လျင်) ရှိ မြေဧရိယာ ၆၀.၂၄ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၈၆၅၆.၂၄ (US$ ၁.၁၈ သန်း အပါအဝင် ကျပ် ရှစ်ထောင့် ခြောက်ရာ ငါးဆယ့် ခြောက်သန်းနှင့် နှစ်သိန်း လေးသောင်းခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၁၂ လ

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၀ နှစ်

၂၄/၃

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၁ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ အလွမ်းဆွတ်ကျေးရွာအုပ်စု၊ ၆၅၉-A/ အလွမ်းဆွတ် ရွာမကွင်းနှင့် ၆၅၉-B /အလွမ်း ဆွတ်တောင်ကွင်း၊ စက္ကူထုပ်ပိုးစက်ရုံ (သန်လျင်) ရှိ မြေဧရိယာ (၆၀.၂၄) ဧက (၂၄၃၇၈၂.၈၅ စတုရန်းမီတာ) အား ငှားရမ်း၍ စက္ကူထုပ်ပိုးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၁၆) အစည်းအဝေးမှ ကနဦး နှစ် ၂၀ သက်တမ်းကုန်ဆုံးမည့် အချိန်နီးမှသာ ကနဦး နှစ် ၅၀ သို့ တိုးမြှင့်ခွင့်ကို ပြန်လည်တင်ပြရန်နှင့် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြတ်မိဘကုမ္ပဏီလီမိတက်ကို စက္ကူထုပ်ပိုးပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၄၆/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ)အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်(၅)နှစ် ခံစားပြီးနောက် လုပ်ငန်း

၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက် ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်းအခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀ (ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများ ကို သီးခြားပြုစုထားရှိရမည်။

၆။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) ပိုင် စက္ကူထုပ်ပိုး ပစ္စည်းစက်ရုံ (သန်လျင်)၊ သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စက်ရုံ၊ မြေနှင့် အဆောက်အဦအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ဆုံးဖြတ်ချက်နှင့် အညီ ကိုက်ညီအောင် ပြန်လည်ချုပ်ဆိုရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် ၁-၉-၂၀၁၁ နေ့မှစတင်၍ ကနဦးနှစ်(၂၀)နှင့် သက်တမ်းတိုးမြှင့်မည့်ကာလမှာ တစ်ကြိမ်လျှင် (၅) နှစ်စီဖြင့် (၂) ကြိမ် ဖြစ်ပါသည်။ ကနဦး နှစ် ၂၀ သက်တမ်းကုန်ဆုံးမည့် အချိန်နီးမှ သာ ကနဦးသက်တမ်းကို နှစ် ၅၀ သို့ တိုးမြှင့်ခွင့်ကို ပြန်လည်တင်ပြရမည်။ ထိုသို့စာချုပ်သက်တမ်း တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် စက်ရုံ၊မြေနှင့် အဆောက်အဦများ၏ ငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ် ၁၀၀ သန်း (ကျပ်သန်း တစ်ရာ တိတိ) အား စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) သို့ ပေးသွင်းရမည်။

၉။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် စက္ကူထုပ်ပိုးစက်ရုံ (သန်လျင်)၊ သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်း)နှင့် အငှားချထားခြင်းခံရသူ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) တို့ ချုပ်ဆိုမည့် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၀။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်း ရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့်

လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင် ရွက်ရမည်။

၁၃။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက် များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေး ဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့**မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၆။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး(တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်**အစီရင် ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်း လိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

၂၄/၃

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကဖ-၃/မ-၁၃၂၉/၂၀၁၆ (ငြ-၁)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကန့်သတ်


ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယာဉ်စက်ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Company Limited)

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြတ်မိဘကုမ္ပဏီလီမိတက် (Myat Mi Ba Co., Ltd.) တည်ထောင်ကာ စက္ကူထုပ်ပိုးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မြတ်မိဘကုမ္ပဏီလီမိတက် |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဝင်းလွင် (အဘ- ဦးအောင်) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - စက္ကူထုပ်ပိုးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ အလွမ်းဆွတ်ကျေးရွာအုပ်စု၊ ၆၅၉-A/ အလွမ်းဆွတ်ရွာမကွင်းနှင့် ၆၅၉-B/ အလွမ်းဆွတ်တောင်ကွင်းရှိ စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားလုပ်ငန်းပိုင် စက္ကူထုပ်ပိုးစက်ရုံ (သန်လျင်) |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားလုပ်ငန်း |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၆၀.၂၄ ဧက (၂၄၃,၇၈၂.၈၅ စတုရန်းမီတာ) |
| | အဆောက်အဦ | - ၂၆ လုံး |
| | နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ | - ကျပ် သန်း ၁၀၀ |
| | မြေငှားသက်တမ်း | - ကနဦး ၂၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| | | - ၁-၉-၂၀၁၁ နေ့မှစ၍ ငှားရမ်းစာချုပ် စတင်ချုပ်ဆိုထား၍ ၁၆ နှစ် ကျန်ရှိပါသည်။ (ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ် ၃/၂၀၁၄ (၆-၂-၂၀၁၄) ခွင့်ပြုချက် အရ) |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၈၆၅၆.၂၄ သန်း (US$ ၁.၁၈ သန်းအပါအဝင်)** |
| | | **ကျပ် (သန်း)** |
| | - စက်ပစ္စည်းကိရိယာများတန်ဖိုး | ၁၁၈၄.၃၀ (US$ ၁.၁၈ သန်းအပါအဝင်) |
| | - အဆောက်အအုံပြုပြင်စရိတ် | ၁၀၂၆.၀၀ |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၅၆.၉၈ |
| | - ကုန်ကြမ်းပစ္စည်းတန်ဖိုး | ၆၃၈၈.၉၆ |
| | | **၈၆၅၆.၂၄** |
| | | **၁ US$ = ၁၀၀၀ ကျပ်** |
| ၆ | တင်ပြလာသည့်ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၂၀ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၇ | တည်ဆောက်ရေးကာလ | - ၁၂ လ |
| ၈ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % ရောင်းချခြင်း |
| ၉ | ထုတ်လုပ်မှုနှင့် ရောင်းချမှုဈေးနှုန်း (၆နှစ်မြောက်) | - |
| ၁၀ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၁၈,၁၃၈.၁၂ သန်း |
| | ကုမ္ပဏီအသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၁၆,၇၆၉.၀၃ သန်း |
| | ကုမ္ပဏီအသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၁,၃၆၉.၀၉ သန်း |

| **အမျိုးအစား** | **ထုတ်လုပ်မှုအရေအတွက် ($m^2$)** | **ရောင်းဈေးနှုန်း (ကျပ်/$m^2$)** |
|---|---|---|
| Double Wall Corrugated Paper | ၂,၄၇၄,၀၀၀ | ၅,၆၄၀ |
| Double Face Corrugated Paper | ၃,၂၄၄,၀၀၀ | ၁,၂၄၀ |

| | | |
|---|---|---|
| ၁၁ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - **၁၂၄ ဦး** |
| | ပြည်တွင်း | - ၁၂၄ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၄၀၀,၀၀၀) |
| | ပြည်ပ | ၃ ဦး (အချိန်ပိုင်းခန့်ထားမည်ဖြစ်ပြီး လစာပေးရန်မလို) |
| ၁၂ | အရင်းကြေကာလ | - ၆ နှစ် |
| ၁၃ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၁.၀၈ % |
| ၁၄ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - ကျပ် ၄၅၃၄.၅၃ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၉၀၆.၉၁ သန်း |
| ၁၅ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၅၀၀ ကီလိုဝပ်နာရီ |
| ၁၆ | ငွေကြေးအထောက်အထား | - မြတ်မိဘကုမ္ပဏီ လီမိတက်သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် ၁၂-၁၁-၂၀၁၅ နေ့တွင် US$ ၈၇၂၇.၂၅၊ မြန်မာ့စီးပွားရေးဘဏ်(ဘဏ်ခွဲ-၃)တွင်၃၀-၁၁-၂၀၁၅ နေ့တွင် ကျပ် ၈၆၃၇,၁၉၆.၃၃ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂ % သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ |

မြတ်မိဘ ကုမ္ပဏီလီမိတက်

(MYAT MI BA CO., LTD)

က

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ (သန်လျင်)

ကို

ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်

ငှားရမ်း၍ ထုတ်လုပ်မှု

ဆောင်ရွက်ရန်

အဆိုပြုတင်ပြချက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၁၇၀)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၃၂၉/ ၂၀၁၆ (၁၉၇)

၁။ မြတ်မိဘာကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ အလွမ်းဆွတ်ကျေးရွာအုပ်စု၊ ၆၅၉-A/ အလွမ်းဆွတ်ရွာမကွင်းနှင့် ၆၅၉-B/ အလွမ်းဆွတ်တောင်ကွင်းတွင် စက္ကူထုပ်ပိုးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက္ကူထုပ်ပိုးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိပါသည်။

(စ) ကုန်ကြမ်းဓာတုပစ္စည်းများနှင့် ထုတ်ကုန်ပစ္စည်းများအား Handling, Storage နှင့် Teransportation စသည့်စနစ်အားလုံးအား သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ကြိုတင်စီမံဆောင်ရွက်ထားရှိရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မြတ်မိဘကုမ္ပဏီလီမိတက်မှ စက္ကူထုပ်ပိုးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

မြတ်မိဘာ ကုမ္ပဏီလီမိတက်
Myat Miba Co.,Ltd.
No-111, Yangon - Insein Main Road,(9) Ward, Hlaing T/S, Yangon.
Tel : 95 - 1 - 706883, 526163, 516212, 592236, 592237
Fax : 95 - 1 - 516089, E-mail : myatmiba.ho@gmail.com

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

စာအမှတ်။ ။ MMB / ၁၈၇ / 2016
ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊မတ်လ၊ ၁ ရက်။

အကြောင်းအရာ။ ။ အခွန်ပေးဆောင်မှုအခြေအနေတင်ပြခြင်း။

၁။ ။ စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ (သန်လျင်) ကို ၂၀၁၁ ခုနှစ် ဩဂုတ်လ (၂၆) ရက်နေ့စတင်မှတ်ပုံတင်ထားရမ်းစဉ်က "ကျော်သာကုမ္ပဏီလီမိတက်" အစား "မြတ်မိဘာကုမ္ပဏီလီမိတက်" အဖြစ် ၁၆.၇.၂၀၁၄ နေ့တွင် ပြင်ဆင်ငှား ရမ်းခွင့် ပြုခဲ့ပါသည်။

၂။ ။ သို့ဖြစ်ပါ၍ ယခုအဆိုပြုတင်ပြခြင်းအတွက် ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန် တို့ပေးချေခဲ့သည့် အောက်ဖော်ပြပါ ငွေပေးသွင်း ဖြတ်ပိုင်းတို့ကို အထောက်အထား အဖြစ်ပူးတွဲ တင်ပြအစီရင်ခံ အပ်ပါသည်။

(က) " ကျော်သာကုမ္ပဏီလီမိတက်" အမည်ဖြင့် ငွေပေးသွင်းဖြတ်ပိုင်း (၆) စောင်။

(ခ) " မြတ်မိဘာကုမ္ပဏီလီမိတက်" အမည်ဖြင့် ငွေပေးသွင်းဖြတ်ပိုင်း (၂) စောင်။

လေးစားစွာဖြင့်

ဝင်းလွင်
အုပ်ချုပ်မှုဒါရိုက်တာ

0917

၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ
အခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ
ပေးဆောင်ရမည့်
အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။

အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။

ပတခ(ဝင)၁၉။

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ၂၂၃၂၁၀/MCO/၂၀၁၄-၂၀၁၅

အခွန်ထမ်းအမည်နှင့်လိပ်စာ Myat Mi Ba Co.,Ltd

အမှတ်(၁၁၁)၊ရန်ကုန်-အင်းစိန် လမ်းမကြီး၊(၉)ရပ်ကွက်၊ လှိုင်မြို့နယ်

၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်

ကျပ် ၃၃၆၅၉၃၈ နှင့်ဒဏ်ငွေကျပ် ၃၃၆၅၉၄

စုစုပေါင်း(ဂဏန်းဖြင့်) ၃၇၀၂၅၃၂

(စာဖြင့်)ကျပ် သုံးသန်းခုနှစ်သိန်းနှစ်ထောင့်ငါးရာသုံးဆယ့်နှစ် ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 26/May/2015

ဘဏ်မန်နေဂျာ

| ဘဏ်တံဆိပ် | အခွန်ဆောင်ထားနိုင်ငံသား<br>လေးစားသမှုတို့ဂုဏ်ပြု |
|---|---|

ပတခ(ကသခ) - ၁၉။

# စည်းကြပ်မှုအရ ငွေသွင်းချလန်

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

**အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။**

| |
|---|
| ၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။ |

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ကသ/၂၅၀၂၆/၂၀၁၄-၂၀၁၅

အခွန်ထမ်းအမည်နှင့်လိပ်စာ Myat Mi Ba Co.,Ltd

အမှတ်(၁၁၁)၊ရန်ကုန်-အင်းစိန် လမ်းမကြီး၊(၉)ရပ်ကွက်၊ လှိုင်မြို့နယ်

၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်

ကျပ် ၄၆၀၂၈၉၁ နှင့်ဒဏ်ငွေကျပ် ၄၆၀၂၉၀

စုစုပေါင်းအခွန် ၅၀၆၃၁၈၁

ကျပ် ငါးသန်းခြောက်သောင်းသုံးထောင့်တစ်ရာရှစ်ဆယ့်တစ် ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 26/May/2015

ဘဏ်မန်နေဂျာ

-5063181

| ဘဏ်တံဆိပ် |
|---|

| အခွန်ဆောင်ထားနိုင်ငံသား လေးစားသမှုတို့ဂုဏ်ပြု |
|---|

1349.

ကျော်သာကုမ္ပဏီလီမိတက်
KYAW THA CO LTD
Kyaw Tha
Company Limited.

သို့

ဌာနမှူး
ကုမ္ပဏီများဆိုင်ရာအခွန်ရုံး
ပြည်တွင်းအခွန်များဦးစီးဌာန

စာအမှတ်၊ကေတီ/ ၁၀၂ / ၂၀၁၅
ရက်စွဲ၊၂၀၁၅ခုနှစ်၊အောက်တိုဘာလ ၂၀ ရက်

အကြောင်းအရာ။ ။(၂၀၁၃-၂၀၁၄)စည်းကြပ်နှစ်နှင့် (၂၀၁၄-၂၀၁၅)စည်းကြပ်နှစ်တို့အတွက် အခွန်စည်းကြပ်မှုအပေါ်အရစ်ကျပေးဆောင်ခွင့်ပြုပါရန်လျှောက်ထားခြင်း။

၁။ ကျွန်တော်များကျော်သာကုမ္ပဏီလီမိတက်၏(၂၀၁၃-၂၀၁၄)စည်းကြပ်နှစ်နှင့်(၂၀၁၄-၂၀၁၅) စည်းကြပ်နှစ်တို့အတွက် အခွန်စည်းကြပ်ပြီးဖြစ်၍ ကြိုတင်ခွန်များခုနှိမ်ပြီး ကျသင့်အခွန်များကိုပေးဆောင်နိုင်ရန် ချလံများအား(၁၆.၉.၂၀၁၅)ရက်နေ့တွင်လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပါစည်းကြပ်နှစ်(၂)နှစ်စာအတွက်ပေးသွင်းရမည့် အခွန်ကျသင့်ငွေစုစုပေါင်း မှာငွေကျပ် ၂၇၇,၄၂၉,၆၅၃/-ဖြစ်ပြီး၊ ကျသင့်အခွန်များအနက်မှ ငွေကျပ် ၁၂,၆၉၇,၇၉၁/-အား(၆.၁၀.၂၀၁၅)ရက်နေ့ အခွန်ပေးဆောင်ခဲ့ပြီး ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့်ငွေကြေးအခက်အခဲများရှိနေပါသဖြင့်ပေးဆောင်ရန်ကျန်ရှိသော အခွန်ငွေကျပ် ၂၆၄,၇၃၁,၈၆၂/-အား အောက်ဖော်ပြပါအစီအစဉ်အတိုင်း အရစ်ကျခွဲ၍ပေးဆောင်ခွင့်ပြုပါရန် လေးစားစွာတင်ပြလျှောက်ထားအပ်ပါသည်။

| စဉ် | စည်းကြပ်နှစ် | ကျသင့်အခွန် | ပေးသွင်းမည့်အစီအစဉ် | ပေးသွင်းမည့်ရက် |
|---|---|---|---|---|
| ၁ | ၂၀၁၃-၂၀၁၄ | ၂၈,၅၂၇,၃၁၃ကျပ်(ဝင်ငွေခွန်) | ၂၈,၅၂၇,၃၁၃ ကျပ် | (၃၁.၁၀.၂၀၁၅) |
| ၂ | ၂၀၁၃-၂၀၁၄ | ၅၆,၁၆၄,၂၁၉ကျပ်(ကုန်သွယ်ခွန်) | (ပ)ရစ် ၂၆,၁၆၄,၂၁၉ ကျပ်<br>(ဒု)ရစ် ၃၀,၀၀၀,၀၀၀ ကျပ် | (၂၀.၁၁.၂၀၁၅)<br>(၃၀.၁၁.၂၀၁၅) |
| ၃ | ၂၀၁၄-၂၀၁၅ | ၄၇,၆၄၈,၂၉၄ကျပ်(ဝင်ငွေခွန်) | (ပ)ရစ် ၂၅,၀၀၀,၀၀၀ ကျပ်<br>(ဒု)ရစ် ၂၂,၆၄၈,၂၉၄ ကျပ် | (၁၈.၁၂.၂၀၁၅)<br>(၃၁.၁၂.၂၀၁၅) |
| ၄ | ၂၀၁၄-၂၀၁၅ | ၁၃၂,၃၉၂,၀၃၆ကျပ်(ကုန်သွယ်ခွန်) | (ပ)ရစ် ၅၀,၀၀၀,၀၀၀ ကျပ်<br>(ဒု)ရစ် ၅၀,၀၀၀,၀၀၀ ကျပ်<br>(တ)ရစ် ၃၂,၃၉၂,၀၃၆ ကျပ် | (၃၁.၁.၂၀၁၆)<br>(၂၈.၂.၂၀၁၆)<br>(၃၁.၃.၂၀၁၆) |

လေးစားစွာဖြင့်

KYAW THA CO., LTD.

AYE CHO THAN (Director)

No. 04218

NO 98, 50th STREET, PAZUNDAUNG TOWNSHIP, YANGON, UNION OF MYANMAR. TEL : 296733/297112
TLX : 21201/21236 (BM) 2083 WL. FAX : (951) 296914/299935
E-mail : kyawtha@cybertech.net.mm

ပတခ(ကသခ) - ၁၉။

# စည်းကြပ်မှုအရ ငွေသွင်းချလန်

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

**အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။**

| |
|---|
| ၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။ |

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်းမှတ်ပုံတင်အမှတ် ထလ(ပုဂ္ဂလိကပိုင်)/၃၄၈၀/၂၀၁၄-၂၀၁၅

အခွန်ထမ်းအမည်နှင့်လိပ်စာ Kyaw Tha Co., Ltd

အမှတ်-၉၈၊ လမ်း-၅၀၊ပုဇွန်တောင်မြို့နယ်

၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်

ကျပ် ၃၇၉၆၄၃၆၀ နှင့်ဒဏ်ငွေကျပ် ၁၂၀၃၅၆၄၀

စုစုပေါင်းအခွန် ၅၀၀၀၀၀၀၀

ကျပ် ငါးဆယ်သန်း ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 31/Dec/2015

ဘဏ်မန်နေဂျာ

| ဘဏ်တံဆိပ် |
|---|

| အခွန်ဆောင်ထားနိုင်ငံသား လေးစားသမှုတို့ဂုဏ်ပြု |
|---|

၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံ
ဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်
ရမည့်အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည်။

အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။

MD-010015

ပတခ(ဝင)၁၉။

/68 (ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ၁၄၇၀/MCO/၂၀၁၄-၂၀၁၅

အခွန်ထမ်းအမည်နှင့်လိပ်စာ Kyaw Tha Co., Ltd

အမှတ်-၉၈၊ လမ်း-၅၀၊ပုဇွန်တောင်မြို့နယ်

၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်

ကျပ် ၂၂၆၄၈၂၉၄ နှင့်ဒဏ်ငွေကျပ် ၀

စုစုပေါင်း(ဂဏန်းဖြင့်) ၂၂၆၄၈၂၉၄

(စာဖြင့်)ကျပ် နှစ်ဆယ့်နှစ်သန်းခြောက်သိန်းလေးသောင်းရှစ်ထောင့်နှစ်ရာကိုးဆယ့်လေး ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 17/Dec/2015

ဘဏ်မန်နေဂျာ

အခွန်ဆောင်ထားနိုင်ငံသား
လေးစားသမှုတို့ဂုဏ်ပြု

၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ
အခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ
ပေးဆောင်ရမည့်
အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။

အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။

ပတခ(ဝင)၃၉။

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ၁၄၇၀/MCO/၂၀၁၄-၂၀၁၅

အခွန်ထမ်းအမည်နှင့်လိပ်စာ Kyaw Tha Co., Ltd

အမှတ်-၉၈၊ လမ်း-၅၀၊ပုဇွန်တောင်မြို့နယ်

၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်

ကျပ် ၂၀၆၆၈၃၃၇ နှင့်ဒဏ်ငွေကျပ် ၄၃၃၁၆၆၃

စုစုပေါင်း(ဂဏန်းဖြင့်) ၂၅၀၀၀၀၀၀

(စာဖြင့်)ကျပ် နှစ်ဆယ့်ငါးသန်း ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 30/Nov/2015

ဘဏ်မှန်နေရှာ

| ဘဏ်တံဆိပ် | အခွန်ဆောင်ထားနိုင်ငံသား လေးစားသမှုတို့ဂုဏ်ပြု |
|---|---|

ပုံစံ (ကသခ) - ၁၉။

## စည်းကြပ်မှုအရ ငွေသွင်းချလန်

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

**အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။**

| |
|---|
| ၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။ |

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ထလ(ပုဂ္ဂလိကပိုင်)၃၄၈၀ ၂၀၁၃-၂၀၁၄

အခွန်ထမ်းအမည်နှင့်လိပ်စာ Kyaw Tha Co., Ltd

အမှတ်-၉၈၊ လမ်း-၅၀၊ပုဇွန်တောင်မြို့နယ်

၂၀၁၃-၂၀၁၄ စည်းကြပ်နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်

ကျပ် ၃၀၀၀၀၀၀၀၀ နှင့်ဒဏ်ငွေကျပ် ၀

စုစုပေါင်းအခွန် ၃၀၀၀၀၀၀၀၀

ကျပ် သုံးဆယ်သန်း ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 20/Nov/2015

ဘဏ်မန်နေဂျာ

ဘဏ်တံဆိပ်

အခွန်ဆောင်ထားနိုင်ငံသား လေးစားသမှုတို့ဂုဏ်ပြု

စည်းကြပ်မှုအရ ငွေသွင်းချလံ

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။

| |
|---|
| ၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။ |

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ၇(၄၄) ထလ(ပုဂ္ဂလိကပိုင်) ၃၄၈၀ ၂၀၁၃-၂၀၁၄

အခွန်ထမ်းအမည်နှင့်လိပ်စာ Kyaw Tha Co., Ltd

အမှတ်-၉၈၊ လမ်း-၅၀၊ပုဇွန်တောင်မြို့နယ်

၂၀၁၃-၂၀၁၄ ကျပ် ၂၁၀၅၈၃၈၁ စည်းကြပ်နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်နှင့်ဒဏ်ငွေကျပ် ၅၁၀၅၈၃၈

စုစုပေါင်းအခွန် ၂၆၁၆၄၂၁၉

ကျပ် နှစ်ဆယ့်ခြောက်သန်းတစ်သိန်းခြောက်သောင်းလေးထောင့်နှစ်ရာ့တစ်ဆယ့်ကိုး ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 19/Nov/2015

ဘဏ်မန်နေဂျာ

| ဘဏ်တံဆိပ် | အခွန်ဆောင်ထားနိုင်ငံသား လေးစားသမှုတို့ဂုဏ်ပြု |
|---|---|

၂၀၀၈ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ
အခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ
ပေးဆောင်ရမည့်
အခွန်အကောက်များကို ပေးဆောင်ရန် တာဝန်ရှိသည်။

အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။

ပတခ(ဝင)၁၉။

(ငွေပေးသွင်းသူသို့ ပြန်ပေးရန်ဖြတ်ပိုင်း)

ဒေါ်စန်းစန်းဝင်း

အခွန်ထမ်းလုပ်ငန်း မှတ်ပုံတင်အမှတ် ၁၄၇၀/MCO/၂၀၁၃-၂၀၁၄

အခွန်ထမ်းအမည်နှင့်လိပ်စာ Kyaw Tha Co., Ltd

အမှတ်-၉၈၊ လမ်း-၅၀၊ပုဇွန်တောင်မြို့နယ်

၂၀၁၃-၂၀၁၄ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်

ကျပ် ၂၅၉၃၃၉၂၁ နှင့်ဒဏ်ငွေကျပ် ၂၅၉၃၃၉၂

စုစုပေါင်း(ဂဏန်းဖြင့်) ၂၈၅၂၇၃၁၃

(စာဖြင့်)ကျပ် နှစ်ဆယ့်ရှစ်သန်းငါးသိန်းနှစ်သောင်းခုနစ်ထောင့်သုံးရာ့တစ်ဆယ့်သုံး ကျပ်

ပေးသွင်းသဖြင့် လက်ခံရရှိပါသည်။

ရက်စွဲ၊ 16/Sep/2015

ဘဏ်မန်နေဂျာ

| ဘဏ်တံဆိပ် | အခွန်ဆောင်ထားနိုင်ငံသားလေးစားသမှုတို့ဂုဏ်ပြု |
|---|---|

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆(၃၇၀၇)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)နှင့် မြန်မာ့ထီးစက်ရုံခွဲ(လှိုင်)တို့ကို နှစ်ရှည်ငှားရမ်းခွင့်ပြုရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)နှင့် မြန်မာ့ထီးစက်ရုံခွဲ(လှိုင်)တို့ကို ၆.၂.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၄)၏သဘောတူခွင့်ပြုချက်ဖြင့် မြတ်မိဘကုမ္ပဏီလီမိတက်သို့ (၂၀+၅+၅)နှစ်ဖြင့် ငှားရမ်းဆောင်ရွက်လျက်ရှိပါသည်။

၂။ မြတ်မိဘကုမ္ပဏီလီမိတက်အနေဖြင့် ရင်းနှီးမြှုပ်နှံမှုထပ်မံတိုးမြှင့်၍ အဆိုပါငှားရမ်းစက်ရုံများတွင် နိုင်ငံတကာအဆင့်မီ ထီးအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ထုပ်ပိုးစက္ကူအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းတို့အား တိုးချဲ့ဆောင်ရွက်လိုပါသဖြင့် လက်ရှိငှားရမ်းကာလအစား (၅၀+၁၀+၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းလိုကြောင်း တင်ပြလာပါသည်။

၃။ သို့ပါ၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)နှင့် မြန်မာ့ထီးစက်ရုံခွဲ(လှိုင်)တို့ကို မြတ်မိဘကုမ္ပဏီလီမိတက်သို့ လက်ရှိငှားရမ်းကာလ(၂၀+၅+၅)နှစ်မှ (၅၀+၁၀+၁၀)နှစ်သို့ နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ စာချုပ်(မူကြမ်း)၊ အဆိုပြုလွှာများနှင့်တကွ အချက်အလက်အထောက်အထားများပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၂၁.၁.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၅ / နပတ( ၄ ၁ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ ဇန်နဝါရီလ ၁၄ ရက်

အကြောင်းအရာ။ **ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း) (၂)ရပ်အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၁၄-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂၃-စမ(၂) ၂၀၁၅-၂၀၁၆ (၃၁၃၇)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ ကြီးကြပ်မှုအောက်ရှိ ထီးစက်ရုံခွဲ(လှိုင်)နှင့် စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)အား မြတ်မိဘကုမ္ပဏီလီမိတက်သို့ ငှားရမ်းချုပ်ဆိုခဲ့သည့် ငှားရမ်းခြင်းသဘောတူစာချုပ်(၂)ရပ်အား ပြင်ဆင်ချုပ်ဆိုမည့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)(၂)ရပ်အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပေးပို့လာသော စာချုပ်(မူကြမ်း)(၂)ရပ်အား လေ့လာရာတွင် ငှားရမ်းမည့်စက်ရုံမှာ တူညီမှုမရှိသော်လည်း လုပ်ကိုင်မည့်ကုမ္ပဏီမှာ တူညီပြီးစာချုပ်ပုံစံမှာလည်း တူညီစွာပြုစုထားသောကြောင့် ပြင်ဆင်ချက်စာချုပ်(မူကြမ်း)(၂)ရပ်အား တစ်ပေါင်းတည်း စိစစ်အကြံပြုပါသည်။

၃။ ရည်ညွှန်းချက်(၂)ပါစာနှင့်အတူ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)(၂)ရပ်ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း)များတွင် ဖော်ပြပါရှိသော

စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂများ၊ အခြားပစ္စည်းများနှင့်စပ်လျဉ်းသည့် နောက်ဆက်တွဲများသည် သက်ဆိုင်ရာဌာနမှ တရားဝင်ရေးဆွဲပေးထားသော စာရင်းဇယားများဖြစ်ရန် လိုအပ်ပါသည်၊

(ခ) ဒုတိယအကြိမ် ပြင်ဆင်ချက်စာချုပ်(မူကြမ်း)များ၏ အပိုဒ် ၄ တွင် စာချုပ်သက်တမ်းတိုးမြင့်ခြင်းနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များအား ဖော်ပြပြီးနောက် အပိုဒ် ၁၂ တွင် ယင်းစည်းကမ်းချက်နှင့်စပ်လျဉ်း၍ ထပ်မံဖော်ပြထားသောကြောင့်၊ အပိုဒ် ၄ တွင် ဖော်ပြထားသောစည်းကမ်းချက်အား မင်နီဖြင့်ပြင်ဆင်ပေးလိုက်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စက္ကူထုပ်ပိုးပစ္စည်း စက်ရုံ(သန်လျင်)နှင့်စပ်လျဉ်းသည့် ဒုတိယအကြိမ်ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၁၃ တွင် မူလစာချုပ်ပါ အပိုဒ် (၂၀)မှ (၃၈)အား အပိုဒ် (၁၈)မှ (၃၂)အဖြစ် အစီအစဉ်အတိုင်း ပြောင်းလဲပြင်ဆင်ရမည်ဟုဖော်ပြထားရာ မူလစာချုပ်ပါ အပိုဒ် (၃၄) မှ (၃၈)စာပိုဒ်များသည် မူလစာချုပ်နှင့်သက်ဆိုင်သည့် စည်းကမ်းချက်အပိုဒ်များမဟုတ်ပါဘဲ ပထမအကြိမ် ပြင်ဆင်သည့်စာချုပ်နှင့်သာ သက်ဆိုင်သည့်စည်းကမ်းချက်များဖြစ်ပါသည်။ ထို့ကြောင့် ယင်းစာပိုဒ်နံပါတ်စဉ်များအား မူလစာချုပ်၏နံပါတ်စဉ်များအဖြစ် ပြောင်းလဲပြင်ဆင်ရန်မလိုအပ်ဘဲ ပြင်ဆင်ဖြည့်စွက်ထားသည်ကို တွေ့ရှိရပါသည်၊

(ဃ) မြန်မာ့ထီးစက်ရုံခွဲ(လှိုင်)နှင့်စပ်လျဉ်းသည့် ချုပ်ဆိုခဲ့ပြီးသော ပထမအကြိမ်ပြင်ဆင်ချက်စာချုပ်(မိတ္တူ)၏ အပိုဒ် ၂၉ တွင် ဖော်ပြထားသည့် မူလစာချုပ်အတွင်း ထပ်မံဖြည့်စွက်လိုသည့် စည်းကမ်းချက်အပိုဒ်များသည် ပထမအကြိမ်ပြင်ဆင်ချက်စာချုပ်နှင့်သာသက်ဆိုင်သည့် စည်းကမ်းချက်များသာဖြစ်ပါသည်။ မူလစာချုပ်အတွင်း ထပ်မံဖြည့်စွက်ရန် မလိုအပ်ပါ။ ယင်းပြင်ဆင်ချက်စာချုပ်နှင့်စပ်လျဉ်း၍ ဤရုံးသို့ အကြံပြုချက်တောင်းခံထားခြင်းမရှိကြောင်း

ရုံး၏မှတ်တမ်းများအရ တွေ့ရှိရပါသည်။ ဌာနမှ တာဝန်ယူပြန်လည်စိစစ် သင့်ပါသည်၊

(င) ဒုတိယအကြိမ်ပြင်ဆင်ချက်စာချုပ်(မူကြမ်း)များပါ ကွက်လပ်များကို စာချုပ် ချုပ်ဆိုချိန်တွင် ပြည့်စုံစွာ ဖြည့်စွက်ထားရန်လိုအပ်ပါသည်၊

(စ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့် အညီ ဥပဒေကြောင်း အရသာဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကိုဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၅။ စာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

**စက်မှုဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ



M-017/E/UHZW/ Myat Mi Ba Co., Ltd (5-1-2016).doc

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

# အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

နှင့်

# မြတ်မိဘာကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

# စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)

အား

# ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်

# သက်တမ်းတိုးမြှင့်သည့် ဒုတိယအကြိမ်

# ပြင်ဆင်ချက်သဘောတူစာချုပ်

ရက် စွဲ၊ ၂၀၁၆ ခုနှစ် လ ရက်

ကန့်သတ်

"ကန့်သတ်"

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

# အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)နှင့်

# မြတ်မိဘကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုသော

# စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်) အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

# သက်တမ်းတိုးမြှင့်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ် လ ( )ရက်နေ့တွင် နေပြည်တော်ရှိ ဦးခင်မောင်တင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်း စကားရပ်၌ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) ကတစ်ဖက်နှင့် ဦးဝင်းလွင်၊ အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/ဗတထ(နိုင်)၀၂၈၆၃၉ ကိုယ်စားပြုသော မြတ်မိဘကုမ္ပဏီလီမိတက်၊ အမှတ်(၁၁၀)၊ အင်းစိန်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် "အငှားချထား ခြင်းခံရသူ" ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က အခြားတစ်ဖက် တို့သည် -

(က) ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ အလွမ်းဆွတ်ကျေးရွာရှိ စက္ကူထုပ်ပိုးပစ္စည်း စက်ရုံ(သန်လျင်)၏မြေ(၆၀.၂၄)ဧကနှင့်စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဉ်များနှင့်အခြားပစ္စည်းများ၊ ဝန်ထမ်း အိမ်ရာများကို( ၁၀ )နှစ်သက်တမ်းငှားရမ်း၍ ထုပ်ပိုးပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း ၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၁ ခုနှစ် ဩဂုတ်လ(၂၆)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ်(နောင်တွင် မူလစာချုပ်ဟု ခေါ်ဆို မည်ဖြစ်ပါသည်။)ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၏ ၄.၄.၂၀၁၂ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်(၁/၂၀၁၂-၂၀၁၃) အရ မြန်မာ့စက္ကူနှင့်ဓာတုဗေဒလုပ်ငန်းနှင့် မြန်မာ့အိမ်သုံးပစ္စည်းလုပ်ငန်း တို့ကို ပူးပေါင်း၍ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းအဖြစ် ပြင်ဆင်ဖွဲ့စည်းခဲ့ပါသည်။

(ဂ) ယင်းသို့ လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို ( ၁.၉.၂၀၁၁ ) မှ ( ၃၁.၈.၂၀၃၁ )ထိ(၂၀)နှစ်နှင့် သက်တမ်းတိုးမြှင့်လိုပါက တစ်ကြိမ်လျှင်(၅)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဇူလိုင်လ (၁၆)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။) ထပ်မံချုပ် ဆိုခဲ့ပါသည်။

ကန့်သတ်

( ယ ) အဆိုပါ စာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းမှ သဘောတူခဲ့ပြီး စက်မှုဝန်ကြီးဌာန၏ (၂၉.၁၁.၂၀၁၃)ရက်နေ့ တွင် ကျင်းပခဲ့သည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး အမှတ်စဉ် (၁၈/၂၀၁၃-၂၀၁၄)မှ ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

( င ) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍ အစိုးရအဖွဲ့မှ ခွင့်ပြုသော မူလငှားရမ်းသက်တမ်း (၅)နှစ်အပါအဝင် (၂၀)နှစ်+(၅)နှစ်+(၅)နှစ် ဖြင့် ငှားရမ်းခွင့်ကို(၆.၂.၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၄)မှ သဘောတူ ခွင့်ပြုပြီး ဖြစ်ပါသည်။

( စ ) စက်မှုဝန်ကြီးဌာန၏၂၆.၃.၂၀၁၅ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်(၁၃၄/၂၀၁၄-၂၀၁၅) အရ အထည်အလိပ်လုပ်ငန်းနှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းတို့ကို ပူးပေါင်း၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းအဖြစ် ပြင်ဆင်ဖွဲ့စည်းခဲ့ပါသည်။

(ဆ) မူလစာချုပ်၏သက်တမ်းအား (၁.၉.၂၀၁၁) မှ (၃၁.၈.၂၀၆၁)ထိ(၅၀)နှစ်နှင့် သက်တမ်းတိုးမြှင့်ငှားရမ်းလိုပါက တစ်ကြိမ်လျှင်( ၁၀ )နှစ်ဖြင့်(၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းလိုခြင်းကြောင့် ဒုတိယအကြိမ်ပြင်ဆင်သည့် ဤပြင်ဆင်ချက်သဘောတူစာချုပ် ကို စာချုပ်ဝင်များအကြား ချုပ်ဆိုရခြင်း ဖြစ်ပါသည်။

( ဇ ) ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( )ရက်စွဲပါခွင့်ပြုချက်အမိန့်ကြော်ငြာစာအမှတ် ( ) ဖြင့် ခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

(ဈ) မူလစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၆)တွင် ဖေါ်ပြထားချက်အရ မူလစာချုပ်ကိုပြင်ဆင်သည့် ဤဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်ကို ( )နေ့တွင် ကျင်းပပြုလုပ်ခဲ့သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် ( /၂၀၁၅-၂၀၁၆)မှ သဘောတူပြီးဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကိုပြင်ဆင်သည့် ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်းဖြစ်ပါသည် -

၁။ မူလစာချုပ်၏ ရည်ရွယ်ချက် ခေါင်းစဥ်အောက်ရှိ အပိုဒ်(၁)အား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ် ၊ အလွမ်းဆွတ် ကျေးရွာရှိ စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)၏ မြေ(၆၀.၂၄)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဥ်များနှင့် အခြားပစ္စည်းများ၊ ဝန်ထမ်းအိမ်ရာများကို "အငှားချထားခြင်းခံရသူ" မှ ငှားရမ်း၍ ထုပ်ပိုးပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ အပြင် ထုပ်ပိုးစက္ကူအမျိုးမျိုး တိုးချဲ့ထုတ်လုပ်ခြင်းနှင့် ကုမ္ပဏီလုပ်ငန်းများ တိုးချဲ့ ဆောင်ရွက်နိုင်ရန် အဆောက်အဦများမွမ်းမံခြင်း၊ အကြီးစားပြင်ဆင်ခြင်း၊ အစားထိုး ဆောင်ရွက်ခြင်း၊ စက်ပစ္စည်းများဖြည့်တင်းခြင်းများ ဆောင်ရွက်ရန်ရည်ရွယ်၍ ဤစက်ရုံ ငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

၂။ မူလစာချုပ် အပိုဒ်( ၂ )ပါ အပိုဒ်ခွဲ ( င )( စ )နှင့်( ဇ )တို့အား ပယ်ဖျက်၍ အောက်ပါအပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည်-

(င) စက်ပစ္စည်းကိရိယာများ - နောက်ဆက်တွဲ( ခ)

(စ) ရုံးသုံးပရိဘောဂများ - နောက်ဆက်တွဲ(ဂ)

(ဇ) အခြားပစ္စည်းများ - နောက်ဆက်တွဲ( င )

၃။ မူလစာချုပ်၏ ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၄)နှင့်(၅)တို့အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလမှာ (၁.၉.၂၀၁၁) နေ့မှ (၃၁.၈.၂၀၆၁) ထိ ဖြစ်ပါသည်။

၅။ သက်တမ်းတိုးမြှင့်ငှားရမ်းလိုပါက သက်တမ်းတစ်ကြိမ်လျှင်( ၁၀ )နှစ်ဖြင့် ( ၂ )ကြိမ် သက်တမ်းတိုးမြှင့်ငှားရမ်းနိုင်သည်။ သက်တမ်းတိုးဆောင်ရွက်ခြင်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၄။ မူလစာချုပ်၏ စာချုပ်သက်တမ်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)အား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်သက်တမ်း**

၆။ စာချုပ်သက်တမ်းမှာ(၁.၉.၂၀၁၁)ရက်နေ့မှ စ၍ (၃၁.၈.၂၀၆၁) ရက်နေ့အထိ(၅၀)နှစ် ဖြစ်ပါသည်။

၅။ မူလစာချုပ်၏ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)အား ပယ်ဖျက်ရမည်။

၆။ မူလစာချုပ်၏ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်ရမည်။

၇။ မူလစာချုပ်ပါ အပိုဒ် (၉)မှ(၁၁) အား အပိုဒ် (၇)မှ(၉) အဖြစ် အစီအစဉ်အတိုင်း ပြောင်းလဲ ပြင်ဆင်ရမည်။

၈။ မူလစာချုပ်၏ နောက်ကျကြေးပေးသွင်းခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)အား ပယ်ဖျက်၍ အပိုဒ်(၁၀)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**နောက်ကျကြေးပေးသွင်းခြင်း**

၁၀။ ငှားရမ်းခကျသင့်ငွေကို (၃)လတစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည်။ ပေးသွင်းရန်ပျက်ကွက်ပါက နောက်ကျဒဏ်ကြေးအဖြစ် (၁)လနောက်ကျတိုင်း (၃)လ အတွက် ပေးသွင်းရမည့်ငှားရမ်းခကျသင့်ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ်သတ်မှတ်၍ နောက်ကျသည့်ရက်များအတွက် နောက်ကျဒဏ်ကြေးအား (၁)လ နောက်ကျပါက ပေးသွင်းရမည့်သတ်မှတ်ချက်ဖြစ်သော ငှားရမ်းခ(၃)လ အတွက် ကျသင့်ငွေ၏ (၀.၅%)ကို အခြေခံ၍ တွက်ချက်ပေးဆောင်ရမည်။

၉။ မူလစာချုပ်ပါ အပိုဒ် (၁၃)မှ(၁၆) အား အပိုဒ် (၁၁)မှ(၁၄) အဖြစ် အစီအစဉ်အတိုင်း ပြောင်းလဲ ပြင်ဆင်ရမည်။

၁၀။ မူလစာချုပ်၏ အာမခံထားရှိခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)အားပယ်ဖျက်၍ အပိုဒ်(၁၅) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**အာမခံထားရှိခြင်း**

၁၅။ "အငှားချထားခြင်းခံရသူ"သည် တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ(အပ်ငွေ)အဖြစ် အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း ) ၏ မြန်မာ့စီးပွားရေးဘဏ်၊ ဘဏ်ခွဲ(၃)၊ ရန်ကုန်မြို့ (သို့မဟုတ်) မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)ရှိ ငွေထုတ်စာရင်းအမှတ်၊ SEE A/C သို့ ပေးသွင်းအပ်နှံ ထားရှိရမည်။ ***(သို့မဟုတ်)*** လုပ်ငန်းဆောင်ရွက်မှုအာမခံ( Performance

Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ်၊ ဘဏ်ခွဲ(၃)၊ ရန်ကုန်မြို့ (သို့မဟုတ်) မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းအား အမှတ်( ၃ )အကြီးစားစက်မှုလုပ်ငန်း( ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း )တွင် သိမ်းဆည်းထားရှိရမည်။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဖောက်ဖျက်ပါက "အငှားချထားသူ"အနေဖြင့် အဆိုပါလုပ်ငန်း ဆောင်ရွက်မှု အာမခံအား နိုင်ငံတော်ဘဏ္ဍာငွေအဖြစ် သိမ်းဆည်းနိုင်သည်။ အဆိုပါလုပ်ငန်း ဆောင်ရွက်မှုအာမခံအား ဤစာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ (၄၅)ရက် အတွင်း ပေးဆောင်ရမည်။

၁၁။ မူလစာချုပ်တွင်မပါဝင်သော ကုန်သွယ်လုပ်ငန်းခွန်ပေးဆောင်ခြင်း ခေါင်းစဉ်အား အပိုဒ်(၁၆) အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**ကုန်သွယ်လုပ်ငန်းခွန်ပေးဆောင်ခြင်း**

၁၆။ "အငှားချထားခြင်းခံရသူ"သည် (၃)လတစ်ကြိမ်ပေးချေရမည့် ငှားရမ်းခ၏(၅%)နှင့် ညီမျှသောတန်ဖိုးအား ကုန်သွယ်လုပ်ငန်းခွန်အဖြစ် (၃)လပြည့်တိုင်း ပြည်တွင်းအခွန်များဦးစီးဌာန၊ နေပြည်တော် (သို့မဟုတ်)ရန်ကုန်မြို့တွင် ပေးဆောင်ပြီး ပေးဆောင်မှု မှတ်တမ်းအား အမှတ် ( ၃ ) အကြီးစားစက်မှုလုပ်ငန်း ( ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း )တွင် သိမ်းဆည်းထားရှိရမည်။သို့ဖြစ်ပါ၍အခွန်အကောက်ဆိုင်ရာဥပဒေအရပေးဆောင်ရမည့် အခွန်များအား "အငှားချထားခြင်းခံရသူ" မှ ပေးသွင်းရပါမည်။

၁၂။ မူလစာချုပ်ပါ အပိုဒ် (၁၈) အား အပိုဒ် (၁၇) အဖြစ် ပြောင်းလဲ ပြင်ဆင်ရမည်။

၁၃။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်( ၁၉ )အား ပယ်ဖျက်၍ အပိုဒ်( ၁၈ )အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်သက်တမ်းတိုးခြင်း**

၁၈။ " အငှားချထားခြင်းခံရသူ "သည် မူလ ( ၅၀ ) နှစ် ငှားရမ်းပြီးနောက် နောက်ထပ် စာချုပ်သက်တမ်းတိုးခြင်းသည်( ၁၀ )နှစ်( ၂ )ကြိမ်သာဖြစ်သည်။ သက်တမ်းတိုးဆောင်ရွက်ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၁၄။ မူလစာချုပ်ပါ အပိုဒ်(၂၀)မှ(၃၂)အား အပိုဒ်(၁၉)မှ(၃၁)အဖြစ် အစီအစဉ်အတိုင်းပြောင်းလဲ ပြင်ဆင်ရမည်။

၁၅။ ဤ ဒုတိယအကြိမ် သက်တမ်းတိုးမြှင့်ပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၆ ခုနှစ် လ ( )ရက်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၆။ ဤ စာချုပ်ပါ ပြင်ဆင်ပြောင်းလဲသည့် စည်းကမ်းချက်မှတစ်ပါး မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၇။ ဤ ဒုတိယအကြိမ် သက်တမ်းတိုးမြှင့် ပြင်ဆင်ချက်သဘောတူစာချုပ်တွင် ပါရှိသောနောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၁၈။ ဤ ဒုတိယအကြိမ် သက်တမ်းတိုးမြှင့် ပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၁၉။ ဤ ဒုတိယအကြိမ် သက်တမ်းတိုးမြှင့် ပြင်ဆင်ချက်သဘောတူစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၂၀။ ဤ ဒုတိယအကြိမ် သက်တမ်းတိုးပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၆ခုနှစ် လ( ) ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ တစ်ဘက်ပါအသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| ဦးခင်မောင်တင့်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း<br>(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) | ဦးဝင်းလွင်<br>အုပ်ချုပ်မှုဒါရိုက်တာ<br>မြတ်မိဘကုမ္ပဏီလီမိတက် |

အသိသက်သေ

| | |
|---|---|
| ဒေါက်တာစိုးနိုင်<br>အထွေထွေမန်နေဂျာ<br>နည်းပညာဖွံ့ဖြိုးရေးဌာန<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း<br>(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) | ဦးဝင်းမောင်<br>ဒါရိုက်တာ<br>၉/မခန(နိုင်)၁၁၉၇၄၇<br>အမှတ်(၉၈)၊လမ်း (၅၀)<br>ပုဇွန်တောင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |

ကန့်သတ်

၇

ဦးသန်းထွန်း
အထွေထွေမန်နေဂျာ
အရည်အသွေးထိန်းသိမ်းရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ဒေါ်ဥမ္မာမြင့်
ဒါရိုက်တာ
၁၂/ပဇတ(နိုင်)၀၀၇၉၀၉
အမှတ်(၉၈)၊လမ်း(၅၀)
ပုဇွန်တောင်မြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ကန့်သတ်

နောက်ဆက်တွဲ(ခ)

# စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)

## ထုတ်လုပ်မှုသုံး စက်ပစ္စည်းစာရင်း

| စဉ် | စက်အမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| ၁ | Starch Adheasive Mixing Plant | No | 1 | |
| ၂ | Partition Slotter SST607989(German) | No | 1 | |
| ၃ | Length Cross Cutter Lugano135-730090 | No | 1 | |
| ၄ | Hand Stitching | No | 10 | |
| ၅ | Slitter Creaser M/C Sr-No(031/32/33)(TAIWAN) | No | 3 | |
| ၆ | Partition Slotter M/C(TAIWAN)Sr.No(1) | No | 1 | |
| ၇ | Paper Cutting M/C(Maixma) | Set | 1 | |
| ၈ | Paper Folding Equipment | Set | 1 | |
| ၉ | Eccentric Slotter M/C(German) | Set | 1 | |
| ၁၀ | Eccentric M/C(Taiwan) | Set | 1 | |
| ၁၁ | Slitter Creaser M/C(China) | Set | 1 | |
| ၁၂ | Power Press Machine | Set | 3 | |
| ၁၃ | Automatic Cutting and Creasing M/C | Set | 1 | |
| ၁၄ | Four Colour Printer (Korea) | Set | 1 | |
| ၁၅ | Double Wall Corrugating Line(Taiwan) | Set | 1 | |
| ၁၆ | Waste Disposal | Set | 1 | |

